





# မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်

# ခွင့်ပြုမိန့်

ခွင့်ပြုမိန့်အမှတ် မနသ-၀၃၁/၉၆          ၁၉၉၆ ခုနှစ်၊ ဇူလိုင် လ ၂၂ ရက်။

မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်သည် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေပုဒ်မ ၁၀ အရ ဤခွင့်ပြုမိန့်ကို ထုတ်ပေးလိုက်သည်။

(က) ရင်းနှီးမြှုပ်နှံသူ၏အမည် ဦးအုန်းလွင်

(ခ) အဘအမည် ဦးမောင်တင့်

(ဂ) နိုင်ငံသား/အမျိုးသားမှတ်ပုံတင်အမှတ် MMN - ၅၃၀၄၉၁

(ဃ) နေရပ်လိပ်စာ အမှတ်(၇၀၉)ကုန်သည်လမ်း

ပန်းဘဲတန်းမြို့နယ်၊ ရန်ကုန်မြို့

(င) ဖွဲ့စည်းထားသည့် သို့မဟုတ် ဖွဲ့စည်းမည့် အဖွဲ့အစည်း ပရိုဗင်(န်)တက်(ခ်)နော်လော်ဂျီ အင်ဒတ်စ်ထရီကုမ္ပဏီလီမိတက် (Proven Technology Industry Co., Ltd.)

(စ) ရင်းနှီးမြှုပ်နှံမှုပြုလုပ်မည့် လုပ်ငန်းအမျိုးအစား

ယာဉ်စက်သုံး ခဲအက်ဆစ်ဘက်ထရီအိုးများထုတ်လုပ်ခြင်း

(ဆ) ရင်းနှီးမြှုပ်နှံမှုပြုလုပ်သည့် အရပ်ဒေသ(များ) မြေကွက်အမှတ် ၉၄(က/ခ)

ရပ်ကွက်အမှတ်(၄၂)၊ စက်မှုဒေသ၊ ရွှေပြည်သာမြို့နယ်၊ ရန်ကုန်မြို့

(ဇ) မတည်ငွေရင်းပမာဏ(ကျပ်) ၂၀.၄သန်း (ကျပ်သန်းနှစ်ဆယ်နှင့် လေးသိန်းတိတိ)

ဥက္ကဋ္ဌ

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

လျှို့ဝှက်

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

အမိန့်ကြော်ငြာစာအမှတ်၊ ၂၅/၉၆

ရန်ကုန်မြို့၊ ၁၃၅၈ ခုနှစ်၊ ဒုတိယဝါဆိုလဆန်း ၇ ရက်

(၁၉၉၆ ခုနှစ်၊ ဇူလိုင်လ ၂၂ ရက်)

၁။ Proven Technology Industry Co., Ltd. မှ ရန်ကုန်မြို့ ရွှေပြည်သာမြို့နယ်၊ စက်မှုဒေသ၊ မြေကွက်အမှတ် ၃၄ (က/ခ)၊ ရပ်ကွက်အမှတ် (၄၂) တွင် နိုင်ငံတကာအဆင့်မီ ယာဉ်စက်သုံး ခဲအက်ဆစ်ဘက်ထရီအိုး ထုတ်လုပ်ခြင်းလုပ်ငန်းကို မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုတင်ပြချက်အား (၂၀-၆-၉၆) နေ့တွင်ကျင်းပပြုလုပ်သည့် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ (၉/၉၆) ကြိမ်မြောက်အစည်းအဝေးသို့ တင်ပြခဲ့ရာ ကော်မရှင်မှ လုပ်ငန်းဆောင်ရွက်ရန် မူအားဖြင့် သဘောတူညီခဲ့ပြီး အစိုးရအဖွဲ့သို့ ဆက်လက်တင်ပြရန် ဆုံးဖြတ်ချက်နှင့်အညီ (၃-၇-၉၆) နေ့တွင်ကျင်းပပြုလုပ်သည့် ပြည်ထောင်စုမြန်မာနိုင်ငံတော်အစိုးရအဖွဲ့၏ (၂၄/၉၆) ကြိမ်မြောက်အစည်းအဝေးသို့ ဒုတိယဝန်ကြီးချုပ်ရုံးမှ တင်ပြခဲ့ရာ အစည်းအဝေးမှ သဘောတူကြောင်း ဆုံးဖြတ်ခဲ့ပါသည်။ အဆိုပါဆုံးဖြတ်ချက်အရ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သည် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေ၊ အခန်း (၅) ပုဒ်မ-၁၀ အရ အပ်နှင်းထားသော လုပ်ပိုင်ခွင့်များကို ကျင့်သုံးလျက် Proven Technology Industry Co., Ltd. အား ယာဉ်စက်သုံး ခဲအက်ဆစ်ဘက်ထရီအိုးများ ထုတ်လုပ်ခြင်းလုပ်ငန်း ဆောင်ရွက်နိုင်ရန်အတွက် ခွင့်ပြုမိန့်အမှတ်၊ မနသ-၀၃၁/၉၆ ကို ထုတ်ပေးလိုက်သည်။

၂။ Proven Technology Industry Co., Ltd. အနေဖြင့် ဤခွင့်ပြုမိန့်အရ ယာဉ်စက်သုံး ခဲအက်ဆစ်ဘက်ထရီအိုးများ ထုတ်လုပ်ခြင်းလုပ်ငန်း ဆောင်ရွက်ရာတွင် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေ အခန်း (၇) ပုဒ်မ-၁၂ အရ စီးပွားရေးလုပ်ငန်း စတင်သောနှစ်အပါအဝင် တစ်ဆက်တည်း (၃) နှစ်အတွက် ဝင်ငွေခွန်ကင်းလွတ်ခွင့်နှင့် ဥပဒေပုဒ်မ-၁၃ ပါ ပြဋ္ဌာန်းချက်များနှင့်အညီ အောက်ဖော်ပြပါ အခွန်ကင်းလွတ်ခွင့်နှင့် သက်သာခွင့်များကို ခံစားခွင့်

ပြဋ္ဌာန်းအမိန့်ကြော်ငြာစာကိုထုတ်ပြန်လိုက်သည်။

(က) ဥပဒေပုဒ်မ-၁၃(က)အရလုပ်ငန်း၏ရင်းနှီးမြှုပ်နှံမှုထောင်ပါဝင်သောနိုင်ငံခြားငွေပမာဏပေါ်မူတည်၍ဝင်ငွေခွန်သက်သာခွင့်ခံစားနိုင်ရန်အတွက်ကနဦးရင်းနှီးမြှုပ်နှံမှုကာလအတွင်းနိုင်ငံခြားငွေဖြင့်ရင်းနှီးမြှုပ်နှံသည့်ပမာဏကိုဖော်ပြလျှက်လုပ်ငန်းအကောင်အထည်ဖော်မှုအခြေအနေပေါ်မူတည်၍ကော်မရှင်သို့လျှောက်ထားရမည်။

(ခ) ဥပဒေပုဒ်မ-၁၃(ခ)အရလုပ်ငန်းမှနိုင်ငံခြားငွေဖြင့်ရရှိသည့်အမြတ်ငွေအပေါ်တွင်(၅၀)ရာခိုင်နှုန်းအထိကာလအကန့်အသတ်ဖြင့်ဝင်ငွေခွန်သက်သာခွင့်ကိုခံစားနိုင်ရန်အတွက်ဝင်ငွေခွန်ကင်းလွတ်ခွင့်(၃)နှစ်ခံစားပြီးနောက်လုပ်ငန်း၏အမှန်တကယ်အကောင်အထည်ဖော်နိုင်မှုအခြေအနေကိုဖော်ပြလျှက်၍ကော်မရှင်သို့တင်ပြလျှောက်ထားရမည်။

(ဂ) ဥပဒေပုဒ်မ-၁၃(ဂ)အရကုန်ထုတ်လုပ်မှုလုပ်ငန်းကြောင့်သတ်မှတ်သည့်နှုန်းအထိပြည့်ကွင်း၊ ပြည်ပဝင်ငွေတိုးတက်မှုရှိပါကသတ်မှတ်ချက်နှင့်အညီဝင်ငွေခွန်သက်သာခွင့်ခံစားနိုင်ရန်အတွက်ဝင်ငွေခွန်ကင်းလွတ်ခွင့်ကာလကုန်ဆုံးပြီးသည့်အခါလုပ်ငန်းအကောင်အထည်ဖော်ဆောင်ရွက်နိုင်မှုအခြေအနေကိုဖော်ပြလျှက်၍ကော်မရှင်သို့တင်ပြလျှောက်ထားရမည်။

(ဃ) ဥပဒေပုဒ်မ-၁၃(စ)အရလုပ်ငန်းမှရရှိသည့်အမြတ်ငွေကိုသီးသန့်ရန်ပုံငွေထား၍တစ်နှစ်အတွင်းလုပ်ငန်း၌ပြန်လည်ရင်းနှီးမြှုပ်နှံလျှင်ထိုအမြတ်ငွေအပေါ်တွင်ဝင်ငွေခွန်ကင်းလွတ်ခွင့်(သို့မဟုတ်)သက်သာခွင့်ရရှိရန်အတွက်ဝင်ငွေခွန်ကင်းလွတ်ခွင့်ကာလကုန်ဆုံးပြီးသည့်အခါလုပ်ငန်းအကောင်အထည်ဖော်မှုအခြေအနေကိုဖော်ပြလျှက်ကော်မရှင်သို့တင်ပြလျှောက်ထားရမည်။

(င) ဥပဒေပုဒ်မ-၁၃(ဆ)အရလုပ်ငန်းသုံးမတည်ပစ္စည်းများအပေါ်တန်ဖိုးလျော့ငွေကိုသတ်မှတ်သည့်နှုန်းအတိုင်းနှစ်တိုတိုနှင့်မူလတန်ဖိုးပြည့်မီသည်အထိအမြတ်ငွေမှနှုတ်ပယ်ခွင့်နှင့်စပ်လျဉ်း၍ယင်းတန်ဖိုးလျော့နှုန်းထားများကိုကော်မရှင်သို့တင်ပြလျှောက်ထားရမည်။

(စ) ဥပဒေပုဒ်မ-၁၃(ဇ) အရ ကနဦး ရင်းနှီးမြှုပ်နှံမှု ကာလအတွင်း ပြည်တွင်း၌ မရရှိနိုင်သည့် အမှန်တကယ်လိုအပ်၍ ပြည်ပမှ တင်သွင်းသော စက်ပစ္စည်း၊ စက်အရန်ပစ္စည်း၊ စက်ကိရိယာအစိတ်အပိုင်း၊ လုပ်ငန်းသုံးပစ္စည်းများ အပေါ် အကောက်ခွန်နှင့် အခြားပြည်တွင်း အခွန်အကောက်များ ကင်းလွတ်ခွင့်ပြုသည်။

(ဆ) ဥပဒေပုဒ်မ-၁၃(ဈ) အရ သတ်မှတ်ထားသည့် ကနဦးရင်းနှီးမြှုပ်နှံမှုကာလကုန်ဆုံး၍ ပထမ (၃) နှစ်အတွက် ကုန်ထုတ်လုပ်ရန် တင်သွင်းသည့် ကုန်ကြမ်းများ၊ လုပ်ငန်းသုံးပစ္စည်းများ အပေါ်တွင် အကောက်ခွန်နှင့် အခြားပြည်တွင်းအခွန်အကောက်များကို ကင်းလွတ်ခွင့်ပြုသည်။

(ဇ) ဥပဒေပုဒ်မ-၁၃(ည) အရ ထုတ်လုပ်မည့် ကုန်ပစ္စည်းများကို ပြည်ပသို့ တင်ပို့ရောင်းချမှုအပေါ် ကုန်သွယ်လုပ်ငန်းခွန် ကင်းလွတ်ခွင့်ပြုသည်။

၃။ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေပုဒ်မ-၁၃(ဇ) အရ ပြည်ပမှတင်သွင်းသည့် စက်ပစ္စည်းများနှင့် ပတ်သက်၍ အောက်ပါအတိုင်း လိုက်နာဆောင်ရွက်ရမည်။

(က) နိုင်ငံခြားငွေ ရရှိပုံနည်းလမ်း (Source of Payments for Import) - ဥပမာ - ပြည်ပတင်ပို့မှုမှ ဝင်ငွေ၊ ပြည်ပချေးငွေ (Loan and Credits) ကုန်ပစ္စည်းပြန်လည်ဝယ်ယူသည့်စနစ် (Buy-back System) စသည်တို့ကို ဖော်ပြရန်။

(ခ) တင်သွင်းမည့်ပစ္စည်း အမျိုးအစား စာရင်း (Invoice and Packing List) များကို နိုင်ငံခြားမတည်ငွေရင်း တန်ဖိုးသတ်မှတ်ရေးအဖွဲ့သို့ တင်ပြ၍ ထောက်ခံချက်ရယူရန်။

၄။ Proven Technology Industry Co., Ltd. - ကို မြန်မာနိုင်ငံကုမ္ပဏီများ အက်ဥပဒေနှင့်အညီ မှတ်ပုံတင်နိုင်ရန်အတွက် ကုမ္ပဏီများ ညွှန်ကြားမှုဌာန၊ ရင်းနှီးမြှုပ်နှံမှုနှင့် ကုမ္ပဏီများ ညွှန်ကြားမှုဦးစီးဌာနသို့ ထောက်ခံထားရမည်။ ကုမ္ပဏီအား မှတ်ပုံတင်ပြီးသည့်အခါ အောက်ဖော်ပြပါစာ

ရွက်စာတမ်း (၂) စောင်စီကို ကော်မရှင်ရုံးသို့ ပေးပို့တင်ပြရမည်။

(က) ကုမ္ပဏီမှတ်ပုံတင်လက်မှတ် (Certificate of Incorporation)

(ခ) ကုမ္ပဏီများ ညွှန်ကြားမှုဌာနကအတည်ပြုပြီး ဖြစ်သည့်မြန်မာ အင်္ဂလိပ်နှစ်ဘာသာဖြင့်ပြုစုထားသောကုမ္ပဏီသင်း ဖွဲ့စည်းမျဉ်းနှင့်သင်း ဖွဲ့မှတ်တမ်းများ ( Memorandum and Articles of Association )

၅။ ရင်းနှီးမြှုပ်နှံသူအနေဖြင့် မြေအသုံးပြုမှုနှင့်ပတ်သက်၍၊ နိုင်ငံတော်အစိုးရမှ မြေယာနှင့်ပတ်သက်၍သတ်မှတ်ပြဋ္ဌာန်း မည့်စည်း ကမ်း သတ်မှတ်ချက်များ ကိုတိကျစွာလိုက်နာဆောင်ရွက်ရမည်။

၆။ Proven Technology Industry Co. Ltd သည်ယာဉ်စက်သုံး ခဲအက်ဆစ်ဘက်ထရီအိုး များ ထုတ်လုပ်ခြင်း လုပ်ငန်း ဆောင်ရွက်ရာ၌ ပတ်ဝန်း ကျင်လေထု၊ ရေထု၊ မြေထုညစ်ညမ်း မှုဒဏ်သည်များ မဖြစ်ပေါ်စေရန်အတွက်လိုအပ်သည့်ပတ်ဝန်း ကျင်ညစ်ညမ်း မှုထိန်း သိမ်း ကာကွယ်ရေး အစီအမံများ ကိုစနစ် တကျထား ရှိဆောင်ရွက်ရမည်။

၇။ အဆိုပြုလုပ်ငန်း စတင်ဆောင်ရွက်သည့် နေ့ကို ကော်မရှင်သို့အစီရင်ခံရမည်။

၈။ ဤခွင့်ပြုမိန့်ထုတ်ပေးသည့် နေ့မှစ၍ တစ်နှစ်အတွင်းအဆိုပြုလုပ်ငန်းကိုစတင် ဆောင်ရွက်ခြင်း မပြုနိုင်ပါကဤခွင့်ပြုမိန့်သည်အလိုအလျောက်ပျက်ပြယ်ပြီး ဖြစ်သည်ဟုမှတ်ယူရမည်။

အမိန့်အရ-

(ဗိုလ်မှူး ချုပ်မောင်မောင်)

အတွင်း ရေး မှူး

(ဝန်ကြီး၊ ဒုတိယဝန်ကြီး ချုပ် ရုံး)

စာအမှတ်၊ ရက-၁/မ-၀၆၃/ဧ၆(၀၅၁၀)။

ရက်စွဲ၊ ၁၉၉၆ ခုနှစ်၊ ဇူလိုင်လ ၂၂ ရက်။



ပြည်ထောင်စုမြန်မာနိုင်ငံတော်အစိုးရ
အမှတ်(၂)စက်မှုဝန်ကြီးဌာန

အမှာစာအမှတ် ၃-၂၀၂(၁)၉၆(၃၅၇)

ရက်စွဲ၊ ၁၉၉၆ ခု၊ မေ လ ၈ ရက်။

အကြောင်းအရာ။ <u>သဘောထားမှတ်ချက်တောင်းခံခြင်းကိစ္စ</u>

ရည်ညွှန်းချက်။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ (၂၂-၄-၉၆) ရက်စွဲပါစာအမှတ် ရက-၁/မ-၀၆၃/၉၆(၀၀၆၆)

မြန်မာနိုင်ငံသားများပိုင် PROVEN TECHNOLOGY INDUSTRY CO. LTD ကိုဖွဲ့စည်းတည်ထောင်၍ ရန်ကုန်မြို့၊ ရွှေပြည်သာမြို့နယ်၊ စက်မှုဒေသတွင် နိုင်ငံတကာအဆင့်မီယာဉ်သုံး ခဲအက်ဆစ်ဘက်ထရီအိုး ( Lead Acid Battery ) ထုတ်လုပ်သောစက်ရုံတည်ဆောက်ပြီး စက်မှုလုပ်ငန်းလုပ်ကိုင်ခွင့်ပြုရန်တင်ပြခြင်းနှင့်ပတ်သက်၍ ဤဝန်ကြီးဌာနအနေဖြင့် ကန့်ကွက်ရန်နှင့်မှတ်ချက်ပြုရန်မရှိပါကြောင်း ပြန်ကြားအပ်ပါသည်။

ဒုတိယဝန်ကြီး( )
( ချစ်လွင်၊ ရုံးအဖွဲ့မှူး )

<u>မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်</u>

မိတ္တူကို -

ဦးဆောင်ညွှန်ကြားရေးမှူး
မြန်မာ့အကြီးစားစက်မှုလုပ်ငန်း

FS-4 9/5



1/672 9/5/96

# ပြည်ထောင်စုမြန်မာနိုင်ငံတော်အစိုးရ
## အမှတ်(၂)စက်မှုဝန်ကြီးဌာန

2755 8/5/96

အမှာစာအမှတ် ၃-၂၀၂(၁)၉၆(၃၁၇)

ရက်စွဲ၊ ၁၉၉၆ ခု၊ မေ လ ၈ ရက်။

အကြောင်းအရာ။ သဘောထားမှတ်ချက်တောင်းခံခြင်းကိစ္စ

ရည်ညွှန်းချက်။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ (၂၂-၄-၉၆) ရက်စွဲပါစာအမှတ် ရက-၁/ မ-၀၆၃/၉၆(၀၀၆၆)

မြန်မာနိုင်ငံသားများပိုင် PROVEN TECHNOLOGY INDUSTRY CO. LTD ကိုဖွဲ့စည်းတည်ထောင်၍ ရန်ကုန်မြို့၊ ရွှေပြည်သာမြို့နယ်၊ စက်မှုဒေသတွင် နိုင်ငံတကာအဆင့်မီယာဉ်သုံး ခဲအက်ဆစ်ဘက်ထရီအိုး ( Lead Acid Battery ) ထုတ်လုပ်သောစက်ရုံတည်ဆောက်ပြီး စက်မှုလုပ်ငန်းလုပ်ကိုင်ခွင့်ပြုရန်တင်ပြခြင်းနှင့်ပတ်သက်၍ ဤဝန်ကြီးဌာနအနေဖြင့်ကန့်ကွက်ရန်နှင့်မှတ်ချက်ပြုရန်မရှိပါကြောင်း ပြန်ကြားအပ်ပါသည်။

ဒုတိယဝန်ကြီး( [signature] )
( ချစ်လွင်၊ ရုံးအဖွဲ့မှူး )

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

မိတ္တူကို -
ဦးဆောင်ညွှန်ကြားရေးမှူး
မြန်မာ့အကြီးစားစက်မှုလုပ်ငန်း

ရွှေ-၇၁၉၆

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
၆၅၃/၆၆၇၊ ကုန်သည်လမ်း၊ ရန်ကုန်မြို့

Telex 21368 INVEST BM
Fax : 095 - 01 - 82101

တယ်လီဖုန်း - ၇၂၀၀၉
- ၇၂၂၁၉
- ၇၂၈၇၀

စာအမှတ်၊ ရက - ၁ / မ - ၀၆၃ / ၉၆ ( ၀၀၆

ရက်စွဲ၊ ၁၉၉၆ ခုနှစ်၊ ဧပြီလ ၂၂ ရက်

အကြောင်းအရာ။ ။ <u>သဘောထားမှတ်ချက်တောင်းခံခြင်းကိစ္စ။</u>

ရည်ညွှန်းချက်။ ။ PROVEN TECHNOLOGY INDUSTRY CO., LTD. ၏ ( ၉-၄-၉၆ ) နေ့စွဲပါစာ

၁။ အထက်အကြောင်းအရာပါကိစ္စနှင့်စပ်လျဉ်း၍ မြန်မာနိုင်ငံသားများပိုင် PROVEN TECHNOLOGY INDUSTRY Co., Ltd. ကိုဖွဲ့စည်းတည်ထောင်၍ ရန်ကုန်မြို့၊ ရွှေပြည်သာမြို့နယ်၊ စက်မှုဇုန်၊ မြေတိုင်းရပ်ကွက်အမှတ်( ၄၂ )၊ မြေကွက်အမှတ်၉၄(က/ဧ တို့တွင်နိုင်ငံတကာအဆင့်မီယာဉ်စက်သုံး ခဲအက်ဆစ်ဘက်ထရီအိုး ( Lead Acid Battery ထုတ်လုပ်သောစက်ရုံကိုတည်ဆောက်ပြီး စက်မှုလုပ်ငန်းလုပ်ကိုင်ခွင့်ကိုမြန်မာနိုင်ငံသားမျ ရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီဆောင်ရွက်ခွင့်ပြုပါရန်ဤကော်မရှင်သို့တင်ပြလျှောက်ထားလာပါသည်။

၂။ မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဥပဒေဆိုင်ရာလုပ်ထုံးလုပ်နည်း အခန်း ( ၃ )၊ အပိုဒ် ( ၁၁ ) ပါပြဋ္ဌာန်းချက်နှင့်အညီအဆိုပြုချက်ကို စိစစ်ရာတွင် သက်ဆိုင်ရာအဖွဲ့အစည်းများ၏သဘောထားများကိုတောင်းခံရယူရန်လိုအပ်ပါသဖြင့် အဆိုပြုချက်ပါလုပ်ငန်းနှင့်စပ်လျဉ်း၍အမှတ် ( ၂ ) စက်မှုဝန်ကြီးဌာန၏သဘောထားမှတ်ချက်ကိုပြန်ကြားပေးပါရန် မေတ္တာရပ်ခံအပ်ပါသည်။

( ခိုင်ခိုင် )
တွဲဖက်အတွင်းရေးမှူး ။

<u>ရုံးအဖွဲ့များ</u>
<u>အမှတ် ( ၂ ) စက်မှုဝန်ကြီးဌာန</u>။

ပူးတွဲ - ( ၁ ) အဆိုပြုလွှာ
( ၂ ) လုပ်ငန်းပိုင်းနှင့်ငွေရေးကြေးရေးအထောက်အထားများ
( ၃ ) ဘဏ္ဍာရေးအချက်အလက်များနှင့်ပက်သက်၍တွက်ချက်မှုဇယားများ ။

*လှ၁၇/၄/၉၆။

ပြည်ထောင်စုမြန်မာနိုင်ငံတော်
ဒုတိယဝန်ကြီးချုပ်ရုံး
ရန်ကုန်မြို့

စာအမှတ်၊ (ဒု)ဝခရ/ရင်းနှီး/၁(၃၀)
နေ့စွဲ၊ ၁၉၉၆ ခုနှစ်၊ ဇွန်လ ၂၇ ရက်။

ပြည်ထောင်စုမြန်မာနိုင်ငံတော်အစိုးရအဖွဲ့သို့
တင်ပြသည့်အမှာစာ

အကြောင်းအရာ။ ။ Proven Technology Industry Co, Ltd မှ နိုင်ငံတကာအဆင့်မီယာဉ်စက်သုံး ခဲအက်ဆစ်ဘက်ထရီအိုး ထုတ်လုပ်ခြင်းလုပ်ငန်း ဆောင်ရွက်ရန်အဆိုပြုတင်ပြခြင်းကိစ္စ။

၁။ မြန်မာနိုင်ငံမှ Proven Technology Industry Co, Ltd သည် ရန်ကုန်မြို့၊ ရွှေပြည်သာမြို့နယ်စက်မှုဒေသတွင် နိုင်ငံတကာအဆင့်မီယာဉ်စက်သုံး ခဲအက်ဆစ်ဘက်ထရီအိုး ထုတ်လုပ်ခြင်းလုပ်ငန်းကို မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေအရ ဆောင်ရွက်ရန်အဆိုပြုတင်ပြလာပါသည်။ ယင်းအဆိုပြုချက်ကို ၂၁-၆-၉၆ နေ့တွင် ကျင်းပပြုလုပ်ခဲ့သည့် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ (၉/၉၆) ကြိမ်မြောက် အစည်းအဝေးသို့တင်ပြခဲ့ရာ ကော်မရှင်မှလုပ်ငန်းဆောင်ရွက်ရန်မူအားဖြင့်သဘောတူညီပြီး အစိုးရအဖွဲ့သို့ဆက်လက်တင်ပြရန်ဆုံးဖြတ်ချက်အရ တင်ပြခြင်းဖြစ်ပါသည်။ အဆိုပြုချက်ကို နောက်ဆက်တွဲ(၁)အဖြစ် ပေးပို့ထားပါသည်။

၂။ ဤလုပ်ငန်း၏မတည်ငွေရင်း ပမာဏမှာ နိုင်ငံခြားငွေအမေရိကန်ဒေါ်လာ ၁၀.၉၀ သန်း အပါအဝင်ကျပ် ၂၀.၄ သန်း ဖြစ်ပါသည်။ ဤလုပ်ငန်းတွင် အသုံးပြုမည့်စက်ပစ္စည်းများ တန်ဖိုး ကျပ် ၃.၄၀ သန်း (အမေရိကန်ဒေါ်လာ ၁၀.၉၀ သန်း)ကို မလေးရှားနိုင်ငံ SMART NETWORK SDN BHD မှ ရှေ့ဆိုင်းငွေပေး

ချေးခြင်း စံနစ်အရ ဝယ်ယူမည်ဖြစ်ပြီး အတိုး နှုန်း ၁၀ ရာခိုင်နှုန်းဖြင့် ၄ နှစ်အတွင်း ပြန်လည် ပေး ဆပ်ရမည်ဖြစ်ပါသည်။ ရွှေဆိုင်း ငွေ ပေး ချေးခြင်း စံနစ်အရ စက်ပစ္စည်း ဝယ်ယူရန်စာချုပ် ( မူကြမ်း ) ကိုအဆိုပြုချက်နှင့်အတူ ပူး တွဲထား ပါသည်။

၃။ ဤလုပ်ငန်း ကို ဆောင်ရွက်ရန်အတွက်ကုမ္ပဏီမှအစုဝင် ဦး အုန်း လွင် နှင့်ဦး ဝင်း တင်ပိုင်ဆိုင် သော မြေကွက်အမှတ် ၉၄ (က / ခ)၊ မြေတိုင်း ရပ်ကွက်အမှတ် (၄၂)၊ စက်မှုဒေသ၊ ရွှေပြည်သာမြို့နယ်ရှိ စက်မှုလုပ်ငန်း သုံး မြေဧရိယာ ၁.၉၃၉ ဧက ( ၇၈၄၇ စတုရန်း မီတာ ) ကိုငှား ရမ်း၍ ၅၁၈.၄ စတုရန်း မီတာရှိ အဆောက်အဦ ၁လုံး ကို ဆောက်လုပ်ပြီး ယာဉ်စက်သုံး ခဲအက်ဆစ်ဘက်ထရီအိုး များ ထုတ်လုပ်မည်ဖြစ်ပါသည်။ မြေတန်ဖိုး ကျပ် ၄သန်း ကိုမတည် ငွေရင်း အဖြစ်ထည့်ဝင်ထားပါသည်။

၄။ ဤလုပ်ငန်း မှနှစ်စဉ်နိုင်ငံတကာအဆင့်မီယာဉ်စက်သုံး ခဲအက်ဆစ်ဘက်ထရီအိုး ၀.၀၉သန်း ထုတ်လုပ်မည်ဖြစ်ပြီး ထုတ်လုပ်မှု၏ ၇၅ ရာခိုင်နှုန်း ကို နိုင်ငံခြား သို့တင်ပို့ရောင်း ချ၍ကျန် ၂၅ ရာခိုင်နှုန်း ကို ပြည်တွင်း တွင်ရောင်း ချရန်ရည်ရွယ်ထား ပါသည်။ ပုံမှန်နှစ်၏ ထုတ်လုပ်မှုနှင့် ရောင်း ဈေး နှုန်း မှာ အောက်ပါအတိုင်း ဖြစ်ပါသည်။

| စဉ် | | အကြောင်းအရာ | အိုး | ရေတွက်ပုံ | ဈေး နှုန်း | တန်ဖိုး (သန်း) |
|---|---|---|---|---|---|---|
| ၁ | | ပြည်ပ ရောင်း | | | | |
| | ၁ | Battery N 40 | ၂၇၀၀၀ | အမေရိကန်ဒေါ်လာ | ၂၀ | ၀.၅၄ |
| | ၂ | Battery N 50 | ၁၃၅၀၀ | အမေရိကန်ဒေါ်လာ | ၃၀ | ၀.၄၀ |
| | ၃ | Battery N 70 | ၁၃၅၀၀ | အမေရိကန်ဒေါ်လာ | ၃၆ | ၀.၄၉ |
| | ၄ | Battery N120 | ၁၃၅၀၀ | အမေရိကန်ဒေါ်လာ | ၆၀ | ၀.၈၂ |
| ၂ | | ပြည်တွင်း ရောင်း | | | | |
| | ၁ | Battery N 40 | ၉၀၀၀ | ကျပ် | ၂၂၀၀ | ၁၉.၈ |
| | ၂ | Battery N 50 | ၄၅၀၀ | ကျပ် | ၃၃၀၀ | ၁၄.၉ |
| | ၃ | Battery N 70 | ၄၅၀၀ | ကျပ် | ၄၀၀၀ | ၁၈.၀ |
| | ၄ | Battery N 120 | ၄၅၀၀ | ကျပ် | ၇၂၀၀ | ၃၂.၄ |

၅။ ဤလုပ်ငန်းကို ဆောင်ရွက်ခြင်းဖြင့်တစ်နှစ်ပျမ်းမျှ ရရှိမည့်ဝင်ငွေနှင့်အသုံးစရိတ်ခန့်မှန်းခြေမှာ အောက်ပါအတိုင်း ဖြစ်ပါသည်။

| | | ကျပ်သန်း |
|---|---|---|
| (က) | ဝင်ငွေ | ၉၂.၆၁ |
| (ခ) | အသုံးစရိတ် | ၈၈.၇၄ |
| (ဂ) | အသားတင်အမြတ် | ၃.၈၇ |

၆။ ဤလုပ်ငန်းကို ဆောင်ရွက်ခြင်းဖြင့် နိုင်ငံတော်မှ တစ်နှစ်ပျမ်းမျှ ရရှိမည့်အကျိုးအမြတ်မှာ အောက်ပါအတိုင်း ဖြစ်ပါသည်။

| | | ကျပ်သန်း |
|---|---|---|
| (က) | ဝင်ငွေခွန် | ၁.၁၇ |
| (ခ) | ကုန်သွယ်လုပ်ငန်းခွန် | ၈.၅၇ |

၇။ ဤလုပ်ငန်း ဆောင်ရွက်ရန်ကိစ္စနှင့်ပတ်သက်၍ အမှတ်(၂)စက်မှုဝန်ကြီးဌာနသို့ သဘောထားမှတ်ချက်တောင်းခံရာ ကန့်ကွက်ရန်မရှိကြောင်း အကြောင်းပြန်ကြားလာပါသည်။

၈။ ဤလုပ်ငန်းကိုပြည်တွင်းမှ ဝန်ထမ်း (၇၀) ဦး ခန့်ထား ဆောင်ရွက်မည်ဖြစ်ပါသည်။

၉။ ဤလုပ်ငန်းကို ဆောင်ရွက်ရာတွင် မြန်မာနိုင်ငံသားများ သာလျှင်ပိုင်ဆိုင်သောလုပ်ငန်း ဖြစ်ပြီး နိုင်ငံခြားမှ မည်သူမျှပိုင်ဆိုင်မှုမရှိကြောင်းနှင့် မြေအသုံးချခြင်းနှင့်ပတ်သက်၍ နိုင်ငံတော်မှ မြေယာနှင့်ပတ်သက်၍ သတ်မှတ်ပြဋ္ဌာန်းမည့်စည်းကမ်းသတ်မှတ်ချက်များကိုလိုက်နာ ဆောင်ရွက်ပါမည်ဟု ကတိဝန်ခံချက်ပေးထားပါသည်။

၁၀။ ယာဉ်စက်သုံး ခဲအက်ဆစ်ဘက်ထရီအိုးများ ထုတ်လုပ်ရာတွင်ပတ်ဝန်းကျင်ညစ်ညမ်းမှုမဖြစ်စေရန် ကြိုတင်ကာကွယ်ထိမ်းမှုများ ပြုလုပ်ဆောင်ရွက်သွားမည် ဖြစ်ကြောင်း ကတိဝန်ခံချက်ပေးထားပါသည်။

၁၁။ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေပုဒ်မ (၁၂) နှင့် (၁၃) ပါအခွန်ဆိုင်ရာကင်းလွတ်ခွင့်နှင့်သက်သာခွင့်များ ခံစားခွင့်ပြုရန် လျှောက်ထားလာပါသည်။ ဥပဒေပုဒ်မ (၁၂) အရ၊ စီးပွားရေးလုပ်ငန်း စတင်သော နှစ်အပါအဝင်ဆက်တိုက် ၃ နှစ်အတွက်ဝင်ငွေခွန်ကင်းလွတ်ခွင့် ပေးရမည်ဖြစ်ပါသည်။ ဥပဒေပုဒ်မ (၁၃) တွင် ဖော်ပြထားသည့်အခွန်ဆိုင်ရာကင်းလွတ်ခွင့်နှင့် သက်သာခွင့်များ အနက်လုပ်ငန်းနှင့်သင့်လျော်သည့်အခွန်ကင်းလွတ်ခွင့်နှင့်သက်သာခွင့် များကိုခံစားခွင့်ပြုရန် ကော်မရှင်မှဆုံးဖြတ်ခဲ့ပါသည်။

၁၂။ ဆုံးဖြတ်ရန်အချက်။

Proven Technology Industry Co, Ltd မှ နိုင်ငံတကာအဆင့်မီ ယာဉ်စက်သုံး ခဲအက်ဆစ်ဘက်ထရီအိုး ထုတ်လုပ်ခြင်းလုပ်ငန်း ဆောင်ရွက်ခွင့်ပြုရန်သဘောတူ - မတူ။

၁၃။ ဒုတိယဝန်ကြီးချုပ်ရုံး၏ ထောက်ခံချက်။

အစိုးရအဖွဲ့၏ဆုံးဖြတ်ချက်ကိုနာခံအပ်ပါသည်။

[ ဗိုလ်မှူးချုပ်မောင်မောင် ]
ဝန်ကြီး
ဒုတိယဝန်ကြီးချုပ်ရုံး
နှင့်
အတွင်းရေးမှူး
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်။

ပြည်ထောင်စုမြန်မာနိုင်ငံတော်အစိုးရအဖွဲ့။



*၅၂၇/၆/၉၆။

၂။ သို့ဖြစ်ပါ၍ ယင်းဆုံးဖြတ်ချက်ကိုသိရှိနိုင်ပါရန်နှင့်ဆက်လက် ဆောင်ရွက်နိုင်ပါရန်အကြောင်းကြားအပ်ပါသည်။

( မောင်မောင်ရီ )
တွဲဖက်အတွင်းရေးမှူး

မန်နေဂျင်း ဒါရိုက်တာ
ပရိုဗင်တက်ကနေဒ်လေဘ်ရိုအင်ဒတ်စရီ
ကုမ္ပဏီလီမိတက်။

မိတ္တူကို -

(၁) ရုံးအဖွဲ့မှူး၊ ဘဏ္ဍာရေးနှင့်အခွန်ဝန်ကြီးဌာန။
(၂) ရုံးအဖွဲ့မှူး၊ စီးပွားရေးနှင့်ကူးသန်းရောင်းဝယ်ရေး ဝန်ကြီးဌာန။
(၃) ဥက္ကဋ္ဌ၊ နိုင်ငံခြားမတည်ငွေရင်းတန်ဖိုးသတ်မှတ်ရေးအဖွဲ့ဝင်။
(၄) ညွှန်ကြားရေးမှူးချုပ်၊ အကောက်ခွန်ဦးစီးဌာန။
(၅) ညွှန်ကြားရေးမှူးချုပ်၊ ပြည်တွင်းအခွန်များဦးစီးဌာန။
(၆) ညွှန်ကြားရေးမှူးချုပ်၊ ကုန်သွယ်ရေးညွှန်ကြားမှုဦးစီးဌာန။
(၇) ရုံးလက်ခံစာတွဲ။
(၈) မျှောစာတွဲ။

မ၁*၆/၀/၉၇။

(၂၄.၁.၉၇) ၂/၉၇ ကြိမ် [illegible] မှတ်တမ်း: ဆုံးဖြတ်ချက်



| အမှတ်စဉ် | ဆွေးနွေးချက်နှင့်ညှိနှိုင်းဆုံးဖြတ်ချက် | ဆောင်ရွက်ရန် သိသာရန် |
|---|---|---|
| ၁ | ၂ | ၃ |
| ၁၂ | <u>ပရိုဗင်တက်ကနော်လော်ဂျီအင်ဒတ်စ်ထရီကုမ္ပဏီလီမိတက် ( Proven Technology Industry Co., Ltd. ) ၏ မူလအဆိုပြုချက်တွင်ပါရှိသော စက်ပစ္စည်း အမျိုးအစား ထိုးလဲလှယ်ခွင့်ပြုရန်တင်ပြလျှောက်ထားခြင်းကိစ္စ။</u><br><br>တွဲဖက်အတွင်းရေးမှူး ဦးမောင်မောင်ရိုက ပရိုဗင်တက်ကနော်လော်ဂျီအင်ဒတ်စ်ထရီကုမ္ပဏီလီမိတက်၏ မူလအဆိုပြုချက်တွင်ပါရှိသော စက်ပစ္စည်း အမျိုးအစား ထိုးလဲလှယ်ခွင့်ပြုရန်တင်ပြလျှောက်ထားလာခြင်း ဖြစ်ပါကြောင်း၊ မူလခွင့်ပြုခဲ့သော စက်ပစ္စည်းများ အတွက်ရင်းနှီးမြှုပ်နှံမှု ပမာဏ US$ ၇၀၈၅၀ မှာ ပြောင်းလဲမှုမရှိကြောင်း ရှင်းလင်းတင်ပြပါသည်။<br><br>ဒုတိယဝန်ကြီးချုပ် ဒုတိယဗိုလ်ချုပ်ကြီး မောင်မောင်ခင်က စက်ပစ္စည်း အမျိုးအစား ပြောင်းလဲတင်သွင်းရန်တင်ပြလာခြင်း၏ အကြောင်းပြချက်ကိုသိလိုကြောင်း၊ အဆိုပါကိစ္စကိုနောင်တွင်သတိပြုရန်လိုကြောင်း၊ ထို့ကြောင့် အကြောင်းပြချက်ကိုပါတောင်းခံရန် ပြောကြားပါသည်။<br><br><u>ဆုံးဖြတ်ချက်။</u><br><br>- ပရိုဗင်တက်ကနော်လော်ဂျီအင်ဒတ်စ်ထရီကုမ္ပဏီလီမိတက်၏ မူလအဆိုပြုချက်တွင်ပါရှိသော အမေရိကန်ဒေါ်လာ ၇၀၈၅၀ တန်ဖိုးရှိ စက်ပစ္စည်း အမျိုးအစား ထိုးလဲလှယ်ခွင့်ပြုရန်၊ | အတွင်းရေးမှူး |

၂/၉၇ ကြ/မှီ
၂၄-၁-၉၇

သို့ဝှက်

အကြောင်းအရာ။ ။ ပရိုဗင်တက်က နော်လော်ဂျီအင်ဒတ်စထရီကုမ္ပဏီလီမိတက် ( Proven Technology Industry Co.,Ltd) ၏ မူလအဆိုပြုချက်တွင်ပါရှိသော စက်ပစ္စည်းအမျိုးအစားထိုးလဲလှယ်ခွင့်ပြုရန်ထပ်မံတင်ပြလျှောက်ထားခြင်းကိစ္စ။

၁။ ပရိုဗင်တက်က နော်လော်ဂျီအင်ဒတ်စထရီကုမ္ပဏီလီမိတက်သည် ရန်ကုန်မြို့၊ ရွှေပြည်သာမြို့နယ်စက်မှုဒေသတွင် နိုင်ငံကကာအကာင့်မီယာဉ်၊ စက်သုံးခဲအက်ဆစ်ဘက်ထရီအိုး ထုတ်လုပ်ခြင်းလုပ်ငန်းကို မြန်မာနိုင်ငံသားရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ဆောင်ရွက်နိုင်ရန် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်မှ ၂၂-၇-၉၆ နေ့တွင် ခွင့်ပြုမိန့်အမှတ် မနသ ၀၃၁/၉၆ ကို ထုတ်ပေးခဲ့ပါသည်။

၂။ ပရိုဗင်တက်က နော်လော်ဂျီအင်ဒတ်စထရီကုမ္ပဏီလီမိတက်အနေဖြင့် လုပ်ငန်းစတင်နိုင်ရန်လိုအပ်သော ခဲအက်ဆစ်ကုန်ကြမ်းနှင့် လုပ်ငန်းသုံးပစ္စည်းများကို ပြည်ပမှဝယ်ယူတင်သွင်းရန်တင်ပြခဲ့ရာ၊ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၁၉/၉၆ ကြိမ်မြောက်အစည်းအဝေးမှ သဘောတူခွင့်ပြုခဲ့ပါသည်။ ယခုတဖန် မူလအဆိုပြုချက်တွင်ပါဝင်သော ပြည်ပမှမှာယူတင်သွင်းမည့် စက်ပစ္စည်းများအနက်၊ အမေရိကန်ဒေါ်လာ ၇၀၈၅၀ တန်ဖိုးရှိစက်ပစ္စည်းများကို အမျိုးအစားပြောင်းလဲတင်သွင်းခွင့်ပြုပါရန်တင်ပြလာပါသည်။ (ပူးတွဲ)

၃။ တင်ပြချက်အရ စက်ပစ္စည်းအမျိုးအစားပြောင်းလဲတင်သွင်းခြင်းသာဖြစ်သဖြင့် မူလခွင့်ပြုခဲ့သော ရင်းနှီးမြှုပ်နှံမှုပမာဏမှာ ပြောင်းလဲမှုမရှိကြောင်း တွေ့ရှိရပါသည်။ ၎င်းစက်ပစ္စည်းများကို မူလအဆိုပြုချက်အတိုင်း မလေးရှားနိုင်ငံ SMART NETWORK SDN BHD - မှ ရွှေ့ဆိုင်းငွေပေးချေခြင်း ကိုနှစ်အရ တစ်နှစ်လျှင် (၁၀) ရာခိုင်နှုန်းအတိုးဖြင့်တင်သွင်းမည်ဖြစ်ပြီး ရရှိလာသောနိုင်ငံခြားငွေများဖြင့် (၃) နှစ်အတွင်း ပြန်လည်ပေးဆပ်မည်ဖြစ်ပါသည်။

၄။ သို့ဖြစ်ပါ၍ ပရိုဗင်တကက နော်လော်ဂျီအင်ဒတ်စထရီကုမ္ပဏီလီမိတက်မှတင်ပြလာသော စက်ပစ္စည်းအမေရိကန်ဒေါ်လာ ၇၀၈၅၀ တန်ဖိုးရှိစက်ပစ္စည်းများကို အမျိုးအစားပြောင်းလဲတင်သွင်းခွင့်ပြုပါရန်တင်ပြချက်ကို ခွင့်ပြုနိုင်ပါရန်တင်ပြအမိန့်နာခံအပ်ပါသည်။

သို့ဝှက်

* ၅၂[illegible]/၁/၉၇။

(၂၁.၆.၉၆) ၉/၉၆ MIC အစည်းအဝေး

<u>လျှို့ဝှက်</u>

ပြည်ထောင်စုမြန်မာနိုင်ငံတော်
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

စာအမှတ်၊ ၇က-၆(ခ)/၇၃၁/၉၆(၀၃၀၇)။
ရက်စွဲ၊ ၁၉၉၆ ခုနှစ်၊ ဇွန်လ ၁၇ ရက်။

<u>အမှာစာ</u>

အကြောင်းအရာ။ ။ <u>Proven Technology Industry Co., Ltd. မှ နိုင်ငံတကာအဆင့်မီယာဉ်စက်သုံး ခဲအက်ဆစ်ဘက်ထရီအိုး ထုတ်လုပ်ခြင်းလုပ်ငန်း ဆောင်ရွက်ရန်အဆိုပြုတင်ပြခြင်းကိစ္စ</u>။

၁။ မြန်မာနိုင်ငံမှ Proven Technology Industry Co., Ltd. သည် ရန်ကုန်မြို့၊ ရွှေပြည်သာမြို့နယ်စက်မှုဒေသတွင် နိုင်ငံတကာအဆင့်မီယာဉ်စက်သုံး ခဲအက်ဆစ်ဘက်ထရီအိုး ထုတ်လုပ်ခြင်းလုပ်ငန်းကို မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေအရ ဆောင်ရွက်ရန်အဆိုပြုတင်ပြလာပါသည်။ ယင်းအဆိုပြုချက်ကို ၇-၆-၉၆ နေ့တွင်ကျင်းပပြုလုပ်ခဲ့သည့်မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ (၁၀/၉၆)ကြိမ်မြောက်ကြိုတင်ညှိနှိုင်းအစည်းအဝေးသို့တင်ပြခဲ့ရာ ကော်မရှင်အစည်းအဝေးသို့ဆက်လက်တင်ပြရန်ဆုံးဖြတ်ချက်အရတင်ပြခြင်းဖြစ်ပါသည်။ အဆိုပြုချက်နှင့်အတူ ငွေရေးကြေးရေးဆိုင်ရာအချက်အလက်များကို <u>နောက်ဆက်တွဲ (၁)</u> တွင်တင်ပြထားပါသည်။

၂။ ဤလုပ်ငန်း၏မတည်ငွေရင်း ပမာဏမှာ နိုင်ငံခြားငွေအမေရိကန်ဒေါ်လာ ၀.၉၀သန်း အပါအဝင်ကျပ် ၂၀.၄သန်း ဖြစ်ပြီး ယင်းတွင် ငွေသားကျပ် ၇ သန်း၊ မြေတန်ဖိုးကျပ် ၄သန်း၊ အဆောက်အဦအတွက်ကျပ် ၃သန်း နှင့်စက်ပစ္စည်းကိရိယာများ အတွက်ကျပ် ၅.၄သန်း (အမေရိကန်ဒေါ်လာ ၀.၉သန်း) ထည့်ဝင်ရင်းနှီးမည်ဖြစ်ပါသည်။ ဤလုပ်ငန်းတွင်အသုံးပြုမည့်စက်ပစ္စည်းများကိုမလေးရှားနိုင်ငံ SMART NETWORK SDN BHD - မှ ရွှေဆိုင်း ငွေပေး ချေခြင်းစနစ်အရဝယ်ယူမည်ဖြစ်ပါသည်။

<u>လျှို့ဝှက်</u>

၃။ ဤလုပ်ငန်းကို ဆောင်ရွက်ရန်အတွက်ကုမ္ပဏီမှအစုဝင်ဦးဘုန်းလှိုင်နှင့် ဦးဝင်းတင်ပိုင်ဆိုင်သော မြေကွက်အမှတ် ၉၄ (က/ခ)၊ မြေတိုင်းရပ်ကွက်အမှတ် (၄၂)၊ စက်မှုဒေသ၊ ရွှေပြည်သာမြို့နယ်ရှိစက်မှုလုပ်ငန်းသုံး မြေဧရိယာ ၁.၉၃၉ ဧက (၇၈၄၇ စတုရန်းမီတာ) ကိုငှားရမ်း၍ ၅၁၈.၄ စတုရန်းမီတာရှိအဆောက်အဦသစ်တလုံးကို ဆောက်လုပ်ပြီး ယာဉ်စက်သုံး ခဲအက်ဆစ်ဘက်ထရီအိုး များ ထုတ်လုပ်မည်ဖြစ်ပါသည်။ မြေတန်ဖိုး ကျပ် ၄သန်းကိုမတည်ငွေရင်း အဖြစ်ထည့်ဝင်ထားပါသည်။

၄။ ဤလုပ်ငန်း မှနှစ်စဉ်နိုင်ငံတကာအဆင့်မီယာဉ်စက်သုံး ခဲအက်ဆစ်ဘက်ထရီအိုး ၀.၀၉သန်း ထုတ်လုပ်မည်ဖြစ်ပြီး ထုတ်လုပ်မှု၏ ၇၅ ရာခိုင်နှုန်း ကိုနိုင်ငံခြားသို့ တင်ပို့ရောင်းချ၍ကျန် ၂၅ ရာခိုင်နှုန်း ကိုပြည်တွင်း တွင် ရောင်းချရန်ရည်ရွယ်ထားပါသည်။ ပုံမှန်နှစ်၏ထုတ်လုပ်မှုနှင့်ရောင်း ဈေးနှုန်း မှာ အောက်ပါအတိုင်း ဖြစ်ပါသည်။

| စဉ် | အကြောင်းအရာ | အိုး | ရေတွက်ပုံ | ဈေးနှုန်း | တန်ဖိုး (သန်း) |
|---|---|---|---|---|---|
| ၁ | ပြည်ပရောင်း | | | | |
| ၁ | Battery N 40 | ၂၇၀၀၀ | US $ | ၂၀ | ၀.၅၄ |
| ၂ | Battery N 50 | ၁၃၅၀၀ | US $ | ၃၀ | ၀.၄၁ |
| ၃ | Battery N 70 | ၁၃၅၀၀ | US $ | ၃၆ | ၀.၄၉ |
| ၄ | Battery N120 | ၁၃၅၀၀ | US $ | ၆၈ | ၀.၉၂ |
| ၂ | ပြည်တွင်းရောင်း | | | | |
| ၁ | Battery N 40 | ၉၀၀၀ | ကျပ် | ၂၂၀၀ | ၁၉.၈ |
| ၂ | Battery N 50 | ၄၅၀၀ | ကျပ် | ၃၃၀၀ | ၁၄.၉ |
| ၃ | Battery N 70 | ၄၅၀၀ | ကျပ် | ၄၀၀၀ | ၁၈.၀ |
| ၄ | Battery N120 | ၄၅၀၀ | ကျပ် | ၇၂၀၀ | ၃၂.၄ |

၅။ ဤလုပ်ငန်းကို ဆောင်ရွက်ခြင်းဖြင့် တစ်နှစ်ပျမ်းမျှ ရရှိမည့် ဝင်ငွေနှင့် အသုံးစရိတ်ခန့်မှန်းခြေမှာ အောက်ပါအတိုင်း ဖြစ်ပါသည်။

| | ကျပ်သန်း |
|---|---|
| (က) ဝင်ငွေ | ၉၂.၆၀ |
| (ခ) အသုံးစရိတ် | ၈၈.၇၄ |
| (ဂ) အသားတင်အမြတ် | ၃.၈၇ |

၆။ ဤလုပ်ငန်းကို ဆောင်ရွက်ရာတွင် အရင်းအနှီး၏ အကျိုးအမြတ် ပြန်ပေါ်နှုန်းမှာ ၁၈.၈၆ ရာခိုင်နှုန်း ရရှိပြီး အရင်းကြေကာလမှာ ၄ နှစ်နှင့် ၈ လ ဖြစ်ပါသည်။ ရွှေ့ဆိုင်း ငွေချေစံနစ်ဖြင့် ဝယ်ယူမည့်စက်ပစ္စည်းများ အတွက် ချေးငွေကို အတိုးနှုန်း ၁၀ ရာခိုင်နှုန်းဖြင့် ၄ နှစ်အတွင်း ပြန်လည်ပေးဆပ်ရမည်ဖြစ်ပါသည်။ အရင်းနှင့် ချေးငွေအချိုးမှာ ၁း၀.၃၆ ဖြစ်ပါသည်။

၇။ ဤလုပ်ငန်းကို ဆောင်ရွက်ခြင်းဖြင့် နိုင်ငံတော်မှ တစ်နှစ်ပျမ်းမျှ ရရှိမည့်အကျိုးအမြတ်မှာ အောက်ပါအတိုင်း ဖြစ်ပါသည်။

| | ကျပ်သန်း |
|---|---|
| (က) ဝင်ငွေခွန် | ၁.၁၇ |
| (ခ) ကုန်သွယ်လုပ်ငန်းခွန် | ၈.၅၇ |

၈။ ဤလုပ်ငန်း ဆောင်ရွက်ရန်ကိစ္စနှင့်ပတ်သက်၍ အမှတ် (၂) စက်မှုဝန်ကြီးဌာနသို့ သဘောထားမှတ်ချက် တောင်းခံရာ ကန့်ကွက်ရန် မရှိကြောင်း အကြောင်းပြန်ကြားလာပါသည်။

၉။ Proven Technology Industry Co., Ltd. - ၏ ငွေရေးကြေးရေး နှင့်ပတ်သက်၍ ရင်းနှီးမြှုပ်နှံသူ ဦးအုန်းလွင်၏ ရုံး မဘဏ်တွင် ၅-၄-၉၆ နေ့ ရှိဘဏ်လက်ကျန်စာရင်းကို တင်ပြထားပါသည်။

၁၀။ ဤလုပ်ငန်းကို ပြည်တွင်းမှ ဝန်ထမ်း (၇၀) ဦး ခန့်ထားဆောင်ရွက်မည်ဖြစ်ပါသည်။

၁၁။ ဤလုပ်ငန်းကို ဆောင်ရွက်ရာတွင် မြန်မာနိုင်ငံသားများသာလျှင် ပိုင်ဆိုင်သောလုပ်ငန်း ဖြစ်ပြီး နိုင်ငံခြားမှ မည်သူမျှ ပိုင်ဆိုင်မှုမရှိကြောင်းနှင့် မြေအသုံးချခြင်းနှင့်ပတ်သက်၍ နိုင်ငံတော်မှ မြေယာနှင့်ပတ်သက်၍ သတ်မှတ်ပြဋ္ဌာန်းမည့်စည်းကမ်း သတ်မှတ်ချက်များကိုလိုက်နာ ဆောင်ရွက်ပါမည်ဟု ဂတိဝန်ခံချက် ပေးထားပါသည်။

၁၂။ ယာဉ်စက်သုံး ခဲအက်ဆစ်ဘက်ထရီအိုးများ ထုတ်လုပ်ရာတွင် ပတ်ဝန်းကျင်ညစ်ညမ်းမှုမဖြစ်စေရန် ကြိုတင်ကာကွယ်စီမံမှုများ ပြုလုပ်ဆောင်ရွက်သွားမည်ဖြစ်ကြောင်း ကတိဝန်ခံချက် ပေးထားပါသည်။

၁၃။ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေပုဒ်မ(၁၂) နှင့် (၁၃) ပါအခွန်ဆိုင်ရာကင်းလွတ်ခွင့်နှင့်သက်သာခွင့်များ ခံစားခွင့်ပြုရန် လျှောက်ထားလာပါသည်။ ဥပဒေပုဒ်မ (၁၂) အရ စီးပွားရေးလုပ်ငန်း စတင်သောနှစ်အပါအဝင် တစ်ဆက်တည်း ၃ နှစ်အတွက် ဝင်ငွေခွန်ကင်းလွတ်ခွင့် ပေးရမည် ဖြစ်ပါသည်။ ဥပဒေပုဒ်မ ၁၃ အရ အခွန်ကင်းလွတ်ခွင့်နှင့်သက်သာခွင့်များကို တောင်းခံထားရာ အောက်ပါအတိုင်း သုံးသပ်ရပါသည်။

- ဥပဒေပုဒ်မ ၁၃ (က) အရ လုပ်ငန်း၏ ရင်းနှီးမြှုပ်နှံမှုတွင်ပါဝင်သော နိုင်ငံခြားငွေပမာဏအပေါ် မူတည်၍ ဝင်ငွေခွန်သက်သာခွင့်နှင့်ပတ်သက်၍ ကနဦး ရင်းနှီးမြှုပ်နှံမှုကာလအတွင်း နိုင်ငံခြားငွေဖြင့် ရင်းနှီးမြှုပ်နှံသည့်ပမာဏကို ဖော်ပြလျက် ကော်မရှင်သို့ လျှောက်ထားသည့်အခါ ခွင့်ပြုသင့်ပါသည်။
- ဥပဒေပုဒ်မ ၁၃ (ခ) အရ လုပ်ငန်းမှ နိုင်ငံခြားငွေဖြင့်ရရှိသည့် အမြတ်ငွေပေါ်တွင် ၅၀ % ဝင်ငွေခွန်သက်သာခွင့်နှင့်ပတ်သက်၍ လုပ်ငန်း၏အမှန်တကယ်အကောင်အထည်ဖော်နိုင်မှုအခြေအနေကို ဖော်ပြလျက် ပထမဝင်ငွေခွန်ကင်းလွတ်ခွင့် (၃) နှစ်ခံစားပြီးသည့်နောက် ကော်မရှင်သို့ လျှောက်ထားသည့်အခါ ခွင့်ပြုသင့်ပါသည်။

- ဥပဒေပုဒ်မ ၁၃ (ဂ) အရ ကုန်ထုတ်လုပ်မှုကြောင့် ပြည်ပို့ငင်း ပြည်ပဝင်ငွေတိုးတက်မှုရှိပါက သတ်မှတ်ချက်နှင့်အညီ ဝင်ငွေခွန်သက်သာခွင့်ကို လုပ်ငန်းအကောင်အထည်ဖော်မှုအရ လျှောက်ထားလာသည့်အခါ ခွင့်ပြုသင့်ပါသည်။
- ဥပဒေပုဒ်မ ၁၃ (ဃ) အရ သွင်းကုန်အစားထိုး လုပ်ငန်းအမြတ်အကျိုးအမြတ်နည်းသည့် လုပ်ငန်းအပေါ်သင့်လျော်သောကာလအထိ ဝင်ငွေခွန်သက်သာခွင့် တောင်းခံခြင်းကို အကျိုးဝင်ခြင်း မရှိဟု ယူဆသုံးသပ်ရပါသည်။
- ဥပဒေပုဒ်မ ၁၃ (စ) အရ လုပ်ငန်းမှ ရရှိသည့် အမြတ်ငွေကို တစ်နှစ်အတွင်း ပြန်လည်ရင်းနှီးမြှုပ်နှံပါက ထိုအမြတ်ငွေပေါ်တွင် ဝင်ငွေခွန်ကင်းလွတ်ခွင့်သို့မဟုတ် သက်သာခွင့်ကို အမှန်တကယ်ပြန်လည်ရင်းနှီးမြှုပ်နှံမှုပြုလုပ်သည့်အခါ လျှောက်ထားလာပါက ခွင့်ပြုသင့်ပါသည်။
- ဥပဒေပုဒ်မ ၁၃ (ဆ) အရ လုပ်ငန်းသုံး မတည်ပစ္စည်းများအပေါ် တန်ဖိုးလျော့ငွေကို သတ်မှတ်သည့်နှုန်းအတိုင်း နှစ်တိုတိုနှင့် မူလတန်ဖိုးဒြပ်ပြည့်မီသည်အထိ အမြတ်ငွေမှ နုတ်ပယ်ခွင့်နှင့်ပတ်သက်၍ လျှောက်ထားလာသည့်အခါ ကော်မရှင်မှ သတ်မှတ်သည့်နှုန်းအတိုင်း ခွင့်ပြုသင့်ပါသည်။
- ဥပဒေပုဒ်မ ၁၃ (ဇ) အရ ကနဦး ရင်းနှီးမြှုပ်နှံမှုကာလအတွင်း တင်သွင်းလာသည့် စက်ပစ္စည်းများ၊ လုပ်ငန်းသုံး ပစ္စည်းများအပေါ်တွင် အကောက်ခွန်နှင့် အခြားပြည်တွင်းအခွန်အကောက်များ ကင်းလွတ်ခွင့်ပြုသင့်ပါသည်။
- ဥပဒေပုဒ်မ ၁၃ (ဈ) အရ ပထမ ၃ နှစ်အတွက် ကုန်ထုတ်လုပ်ရန်တင်သွင်း ခွင့်ပြုသည့် ကုန်ကြမ်းနှင့် လုပ်ငန်းသုံး ပစ္စည်းများအပေါ် အကောက်ခွန်နှင့် အခြားအခွန်များ ကင်းလွတ်ခွင့်ပြုသင့်ပါသည်။
- ဥပဒေပုဒ်မ ၁၃ (ည) အရ ပြည်ပပို့ကုန်အပေါ် ကုန်သွယ်လုပ်ငန်းခွန်ကင်းလွတ်ခွင့်နှင့် ပတ်သက်၍ ခွင့်ပြုသင့်ပါသည်။

၁၄။ <u>ဆုံးဖြတ်ရန်အချက်</u>

(က) Proven Technology Industry Co., Ltd. - မှ နိုင်ငံတကာအဆင့်မီယာဉ်စက်သုံး ခဲအက်ဆစ်ဘက်ထရီအိုး ထုတ်လုပ်ခြင်း လုပ်ငန်း ဆောင်ရွက်ခွင့်ပြုရန် သဘောတူ - မတူ။

(ခ) သဘောတူပါက အထက်အပိုဒ် (၁၃) ပါအနှုန်းဆိုင်ရာ ကင်းလွတ်ခွင့် နှင့် သက်သာခွင့်များ ကိုခံစားခွင့်ပြုရန် သဘောတူ - မတူ။

အတွင်းရေးမှူး (ကိုယ်စား)
[မောင်မောင်ဂို၊ ညွှန်ကြားရေးမှူးချုပ်]

<u>မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်</u>။



မ၁*၁၇/၆/၉၆။

(၇.၈.၉၆) ၁၀/၉၆ ကို/၃၅

<u>လုပ်ငန်း စီမံကိန်း အဆိုပြုချက်၏ အဓိကအချက်များ</u>

(မြန်မာနိုင်ငံသား ရင်းနှီးမြှုပ်နှံမှုဥပဒေအရ)

| | | |
|---|---|---|
| ၁။ | လုပ်ငန်းအမည်/အမျိုးအစား | Proven Technology Industry Co., Ltd.<br>(မြန်မာကုမ္ပဏီ) |
| ၂။ | လုပ်ငန်းအဆိုပြုသူအမည် | ဦးအုန်းလွင် |
| ၃။ | အဆိုပြုလုပ်ငန်းအမျိုးအစား | ယာဉ်စက်သုံး ခဲအက်ဆစ်ဘက်ထရီအိုးများထုတ်လုပ်ခြင်း။ |
| ၄။ | တည်နေရာ | မြေတိုင်းရပ်ကွက်အမှတ် (၄၂)၊ မြေကွက်အမှတ် ၉၄ (က/ခ)၊ စက်မှုဒေသ၊ ရွှေပြည်သာမြို့နယ်။ |
| ၅။ | စုစုပေါင်း ရင်းနှီးမြှုပ်နှံမှု<br>(နိုင်ငံခြားငွေပါဝင်မှု) | ကျပ် (၂၀.၄) သန်း<br>(အမေရိကန်ဒေါ်လာ ၀.၉၀ သန်း) |
| ၆။ | မြေအကြောင်းအရာ | |
| | - မြေအကျယ်အဝန်း | ၁.၉၃၉ ဧက (၇၈၄၇ စ/မီတာ) |
| | - မြေပိုင်ဆိုင်မှု | ကုမ္ပဏီပိုင်မြေ |
| | - မြေအမျိုးအစား | စက်မှုလုပ်ငန်းမြေ |
| | - အသစ်ဆောက်လုပ်မည့်အဆောက်အဦး | - ၁လုံး<br>- ၅၅၈၀ စတုရန်းပေ (၅၁၈.၄၀ စတုရန်းမီတာ) |
| ၇။ | ထုတ်လုပ်မှု (နှစ်စဉ်)<br>ယာဉ်စက်သုံး ခဲအက်ဆစ်ဘက်ထရီအိုး | <u>၉၀၀၀၀</u> |
| | Battery N 40 | ၃၆၀၀၀ |
| | Battery N 50 | ၁၈၀၀၀ |
| | Battery N 70 | ၁၈၀၀၀ |
| | Battery N 120 | ၁၈၀၀၀ |
| ၈။ | ရောင်းချမည့်နည်းစနစ် | |
| | - ပြည်ပရောင်း | ၇၅% |
| | - ပြည်တွင်းရောင်း | ၂၅% |

| | | ပထမနှစ် | တတိယနှစ် | ပဉ္စမနှစ်မှစ၍ |
|---|---|---|---|---|
| ၉။ | ပြည်ပရောင်း ဈေးနှုန်း(US$/အိုး) | | | |
| | Battery N 40 | ၁၆ | ၁၈ | ၂၀ |
| | Battery N 50 | ၂၂ | ၂၆ | ၃၀ |
| | Battery N 70 | ၂၈ | ၃၂ | ၃၆ |
| | Battery N 120 | ၄၆ | ၅၆ | ၆၈ |
| ၁၀။ | ပြည်တွင်း ရောင်းဈေးနှုန်း(ကျပ်/အိုး) | | | |
| | Battery N 40 | ၁၇၀၀ | ၁၉၀၀ | ၂၂၀၀ |
| | Battery N 50 | ၂၅၀၀ | ၂၇၀၀ | ၃၃၀၀ |
| | Battery N 70 | ၃၁၀၀ | ၃၅၀၀ | ၄၀၀၀ |
| | Battery N 120 | ၅၄၀၀ | ၆၂၀၀ | ၇၂၀၀ |
| ၁၁။ | ဝင်ငွေ | | | |
| | -အမေရိကန်ဒေါ်လာ(သန်း) | ၁.၇၃ | ၂.၀၃ | ၂.၃၅ |
| | -ကျပ်(သန်း) | ၆၄.၈၀ | ၇၂.၉၀ | ၈၅.၀၅ |
| ၁၂။ | အသားတင်အမြတ် | ပထမနှစ် | တတိယနှစ် | ပဉ္စမနှစ်မှစ၍ |
| | -အမေရိကန်ဒေါ်လာ(သန်း) | ၀.၃၉ | ၀.၅၂ | ၀.၄၈ |
| | -ကျပ်ငွေ(သန်း) | ၂.၄၈ | (-)၀.၀၉ | ၁.၂၆ |
| ၁၃။ | နိုင်ငံတော်မှတစ်နှစ်ပျမ်းမျှရရှိမည့်အကျိုးအမြတ်(ကျပ်သန်း) | | | |
| | -ကုန်သွယ်လုပ်ငန်းခွန် | ၈.၅၇ | | |
| | -ဝင်ငွေခွန် | ၁.၁၈ | | |
| ၁၄။ | ဝန်ထမ်းအင်အား (ပြည်တွင်း) | (၇၀) ဦး | | |
| ၁၅။ | တည်ဆောက်မှုကာလ | ၁၀ လ | | |

| | | |
|---|---|---|
| ၁၆။ | အခြား | - အစုရှယ်ယာဝင်များဖြစ်သော ဦးဝင်းတင်နှင့် ဦးအုန်းလွင်အမည်ဖြင့်အသုံးပြုခွင့်ရရှိထားသော ရွှေပြည်သာမြို့နယ်စက်မှုဒေသမြို့ရွာနှင့်အိုးအိမ်ဖွံ့ဖြိုးရေးဦးစီးဌာနပိုင်မြေကိုကျပ် ၄သန်းနှင့် အဆောက်အဦတန်ဖိုးကျပ်၃သန်းတို့ကိုတန်ဖိုးသင့်၍ မတည်ငွေရင်းအဖြစ်ထည့်ဝင်ထားပါသည်။<br>- လုပ်ငန်းတွင်အသုံးပြုရန်စက်ပစ္စည်းများကို မလေးရှားနိုင်ငံ SMART NETWORK SDN.BHD မှ ရွှေ့ဆိုင်းငွေပေးချေခြင်းစံနစ် Deferred Payment System အရတစ်နှစ်လျှင်၁၀ရာခိုင်နှုန်းအတိုးဖြင့်ဝယ်ယူပြီး (၃) နှစ်အတွင်း ပြန်လည်ပေးဆပ်မည်ဖြစ်ပါသည်။<br>- အမှတ်(၂)စက်မှုဝန်ကြီးဌာနသို့သဘောထားမှတ်ချက်တောင်းခံရာကန့်ကွက်ရန်မရှိကြောင်း အကြောင်းပြန်ကြားလာပါသည်။<br>- ဤလုပ်ငန်းကိုမြန်မာနိုင်ငံသားများသာပိုင်ဆိုင်ပြီး မည်သည့်နိုင်ငံခြားသားမှ ပိုင်ဆိုင်မှုမရှိကြောင်းနှင့် မြေယာနှင့်ပတ်သက်၍ နိုင်ငံတော်မှပြဌာန်းသည့်စည်းကမ်းချက်များကို လိုက်နာပါမည်ဟု ကတိခံဝန်ချက်ပေးထားပါသည်။<br>- ပတ်ဝန်းကျင်ထိန်းသိမ်းရေးကို ဂရုပြုဆောင်ရွက်သင့်ပါသည်၊ ခံဝန်ချက်ရယူရန်လိုအပ်ပါမည်။ |

သို့

ဥက္ကဋ္ဌ၊
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၊
ရန်ကုန်မြို့။
ပြည်ထောင်စုမြန်မာနိုင်ငံတော်။

ရက်စွဲ။ ။၁၉၉၆ခုနှစ်၊ ဇွန်လ( ၂၅ )ရက်၊

အကြောင်းအရာ။ ။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ အဆိုပြုချက်များပေးပို့ခြင်း။

အထက်ပါအကြောင်းအရာနှင့်ပတ်သက်၍ကျွန်တော်တို့၏ **PROVEN TECHNOLOGY INDUSTRY CO.,LTD** အနေဖြင့်ပြည်ထောင်စုမြန်မာနိုင်ငံတော်တွင် နိုင်ငံတကာအဆင့်မီ ယာဉ်စက်သုံး ခဲအက်ဆစ်ဘက်ထရီအိုး ( **Lead Acid Battery** ) ထုတ်လုပ်သည့် စက်ရုံတည်ဆောက်ပြီး၊ လုပ်ငန်းလုပ်ကိုင်နိုင်ရန် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ကော်မရှင်သို့ မြန်မာနိုင်ငံသားများရင်းနှီး မြှုပ်နှံမှုဥပဒေနှင့်အညီ လျှောက်ထားသော ကုမ္ပဏီ ဖြစ်ပါသည်။

ထိုသို့တင်ပြလျှောက်ထားရာတွင် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်အစည်းအဝေး မှ ပြန်လည်ပြင်ဆင်ညှိနှိုင်းရန်ရှိသောအချက်များကို ပြန်လည်ပြင်ဆင်မှုများပြုလုပ်ထားပြီးဖြစ်ပါ၍ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ဆုံးဖြတ်ချက်အရ ပြည်ထောင်စုမြန်မာနိုင်ငံတော်အစိုးရအဖွဲ့သို့ ဆက်လက်တင်ပြခွင့်ပြုနိုင်ရန်အတွက် ကျွန်တော်တို့ကုမ္ပဏီ၏ အဆိုပြုလွှာ( ၂၇ )စုံကို ပေးပို့တင်ပြအပ်ပါသည်။

ရိုသေလေးစားစွာဖြင့်

ဦးအုန်းလွင်
( ဒါရိုက်တာ )

သို့

ဥက္ကဋ္ဌ၊
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၊
ရန်ကုန်မြို့။

နေ့စွဲ ။ ။၁၉၉၆ခုနှစ်၊ ဇွန်လ( ၁၂ ) ရက်

**အကြောင်းအရာ။ ။မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ အဆိုပြုချက်များပေးပို့ခြင်း။**

အထက်ပါအကြောင်းအရာနှင့်ပတ်သက်၍ ကျွန်တော်တို့၏ PROVEN TECHNOLOGY INDUSTRY CO.,LTD အနေဖြင့်ပြည်ထောင်စုမြန်မာနိုင်ငံတော်တွင် နိုင်ငံတကာအဆင့်မီ ယာဉ်စက်သုံးခဲအက်ဆစ်ဘက်ထရီအိုး ( **Lead Acid Battery** ) ထုတ်လုပ်သည့် စက်ရုံတည်ဆောက်ပြီး၊ လုပ်ငန်းလုပ်ကိုင်နိုင်ရန် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ လျှောက်ထားသောကုမ္ပဏီဖြစ်ပါသည်။ အကြိုစိစစ်ရန်တင်ပြထားခြင်းမှ ပြင်ဆင်ရန်အချက်များအား ပြင်ဆင်ပြီးဖြစ်ပါသဖြင့် ကော်မရှင်မှ ကျွန်တော်တို့ကုမ္ပဏီ၏ အဆိုပြုလွှာကို လိုအပ်သလိုစိစစ်ပေးနိုင်ရန်အတွက် အဆိုပြုလွှာ (၃၅)စုံကို ပေးပို့တင်ပြအပ်ပါသည်။

ရိုသေလေးစားစွာဖြင့်
လျှောက်ထားသူ

ဦးအုန်းလွင်
( ဒါရိုက်တာ )

သို့

ဥက္ကဋ္ဌ၊
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၊
ရန်ကုန်မြို့။

နေ့စွဲ ။ ။၁၉၉၆ခုနှစ်၊ ဇွန်လ( ၁၂ ) ရက်

**အကြောင်းအရာ။ ။မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ လုပ်ငန်းဆောင်ရွက်ခြင်း နှင့်ပတ်သက်၍ ကတိခံဝန်ချက်ပေးပို့ခြင်း။**

အထက်ပါအကြောင်းအရာနှင့်ပတ်သက်၍ ကျွန်တော်တို့၏ **PROVEN** TECHNOLOGY INDUSTRY CO.,LTD အနေဖြင့်ပြည်ထောင်စုမြန်မာနိုင်ငံတော်တွင် နိုင်ငံတကာအဆင့်မီ ယာဉ်စက်သုံးခဲအက်ဆစ်ဘက်ထရီအိုး ( **Lead Acid Battery** ) ထုတ်လုပ်သည့် စက်ရုံတည်ဆောက်ပြီး၊ လုပ်ငန်းလုပ်ကိုင်နိုင်ရန် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ကော်မရှင်သို့ မြန်မာနိုင်ငံသားများရင်းနှီး မြှုပ်နှံမှုဥပဒေနှင့်အညီ လျှောက်ထားသောကုမ္ပဏီ ဖြစ်ပါသည်။ ဤလုပ်ငန်းဆောင်ရွက်ရာတွင် ပတ်ဝန်းကျင်ညစ်ညမ်းမှုမဖြစ်ပွားစေရန် လိုအပ်သည့် ကြိုတင်ကာကွယ်စီမံမှုများ ပြုလုပ်ဆောင်ရွက်ပါမည်ဟု ဝန်ခံကတိပြုပါသည်။

ရိုသေလေးစားစွာဖြင့်

ဦးအုန်းလွင်
( ဒါရိုက်တာ )

သို့

ဥက္ကဋ္ဌ၊
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၊
ရန်ကုန်မြို့။

နေ့စွဲ ။ ။၁၉၉၆ခုနှစ်၊ ဧပြီလ( ၄ ) ရက်

**အကြောင်းအရာ။ ။မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင် သို့အဆိုပြုချက်များ အကြိုစိစစ်ပေးနိုင်ရန် ပေးပို့ခြင်း။**

အထက်ပါ အကြောင်းအရာနှင့်ပတ်သက်၍ ကျွန်တော်တို့၏ PROVEN TECHNOLOGY INDUSTRY CO.,LTD အနေဖြင့်ပြည်ထောင်စုမြန်မာနိုင်ငံတော်တွင် နိုင်ငံတကာအဆင့်မီ ယာဉ်စက်သုံးခဲအက်ဆစ်ဘက်ထရီအိုး ( Lead Acid Battery ) ထုတ်လုပ်သည့် စက်ရုံတည်ဆောက်ပြီး၊ လုပ်ငန်းလုပ်ကိုင်နိုင်ရန် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ မြန်မာနိုင်ငံသားများရင်းနှီး မြှုပ်နှံမှုခွင့်ပြုမိန့်လျှောက်ထားသော ကုမ္ပဏီဖြစ်ပါသည်။ သို့ဖြစ်ပါ၍ ကျွန်တော်တို့ကုမ္ပဏီ၏ အဆိုပြုလွှာကိုလိုအပ်သလို စိစစ်ပေးနိုင်ရန်အတွက် အဆိုပြုလွှာ (၁၂)စုံ ကိုပေးပို့တင်ပြ အပ်ပါသည်။

ရိုသေလေးစားစွာဖြင့်
လျှောက်ထားသူ

ဦးအုန်းလွင်
(ဒါရိုက်တာ)

သို့

ဥက္ကဋ္ဌ၊
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၊
ရန်ကုန်မြို့။

နေ့စွဲ ။ ။၁၉၉၆ခုနှစ်၊ ဧပြီလ( ၉ ) ရက်

**အကြောင်းအရာ။ ။မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ လုပ်ငန်းဆောင်ရွက်ခြင်း နှင့်ပတ်သက်၍ ကတိခံဝန်ချက်ပေးပို့ခြင်း။**

၁။ အထက်ပါအကြောင်းအရာနှင့်ပတ်သက်၍ ကျွန်တော်တို့၏ PROVEN TECHNOLOGY INDUSTRY CO.,LTD အနေဖြင့်ပြည်ထောင်စုမြန်မာနိုင်ငံတော်တွင် နိုင်ငံတကာအဆင့်မီ ယာဉ်စက်သုံးခဲအက်ဆစ်ဘက်ထရီအိုး ( Lead Acid Battery ) ထုတ်လုပ်သည့် စက်ရုံတည်ဆောက်ပြီး၊ လုပ်ငန်းလုပ်ကိုင်နိုင်ရန် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ မြန်မာနိုင်ငံသားများရင်းနှီး မြှုပ်နှံမှုဥပဒေနှင့်အညီ လျှောက်ထားသောကုမ္ပဏီဖြစ်ပါသည်။ ဤလုပ်ငန်းသည် မြန်မာနိုင်ငံသားများသာလျှင် ပိုင်ဆိုင်သောလုပ်ငန်း ဖြစ်ပါသည်။ ဤလုပ်ငန်းတွင်နိုင်ငံခြားမှ မည်သူမျှ ပိုင်ဆိုင်မှုမရှိကြောင်း ဝန်ခံကတိပြုပါသည်။

၂။ ထို့အပြင် နိုင်ငံတော်အစိုးရမှ မြေယာနှင့်ပတ်သက်၍ သတ်မှတ်ပြဋ္ဌာန်းမည့် စည်းကမ်းသတ်မှတ်ချက်များကို လိုက်နာဆောင်ရွက်ပါမည်ဟု ဝန်ခံကတိပြုပါသည်။

ရိုသေလေးစားစွာဖြင့်

ဦးအုန်းလွင်
( ဒါရိုက်တာ )
ပရိုဗင်(န်)တက်(ချ)နော်လော်ဂျီအင်ဒတ်စ်ထရီကုမ္ပဏီလီမိတက်

သို့

ဥက္ကဋ္ဌ၊
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၊
ရန်ကုန်မြို့။

နေ့စွဲ ။ ။၁၉၉၆ခုနှစ်၊ ဧပြီလ( ၉ ) ရက်

**အကြောင်းအရာ။ ။ပြည်ထောင်စုမြန်မာနိုင်ငံတော်၊ မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုခွင့်ပြုမိန့်နှင့် မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဥပဒေပုဒ်မ(၁၂)နှင့်(၁၃)တို့အရ အခွန်ဆိုင်ရာကင်းလွတ်ခွင့်နှင့်သက်သာခွင့်များ လျှောက်ထားခြင်း။**

၁။ အထက်ပါ အကြောင်းအရာနှင့်ပတ်သက်၍ မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဥပဒေအရ ကျွန်တော်တို့၏ PROVEN TECHNOLOGY INDUSTRY CO.,LTD သည် ရန်ကုန်မြို့၊ ရွှေပြည်သာမြို့နယ်၊ စက်မှုဒေသ၊ မြေတိုင်းရပ်ကွက်အမှတ်(၄၂)၊ မြေကွက်အမှတ် ၉၄(က/ခ) တို့တွင် နိုင်ငံတကာအဆင့်မီ ယာဉ်စက်သုံးခဲအက်ဆစ်ဘက်ထရီအိုး ( Lead Acid Battery ) ထုတ်လုပ်သောစက်ရုံကို တည်ဆောက်ပြီး၊ ပြည်ထောင်စုမြန်မာနိုင်ငံတော်တွင် စက်မှုလုပ်ငန်းလုပ်ကိုင်ခွင့် ရရှိနိုင်ရန် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင် သို့ မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှု ခွင့်ပြုမိန့်ကို လျှောက်ထားသောကုမ္ပဏီဖြစ်ပါသည်။

၂။ ကျွန်တော်တို့၏ကုမ္ပဏီလီမိတက်သည် မလေးရှားနိုင်ငံ၊ Smart Network Sdn Bhd မှ ကမ္ဘာ့အဆင့်အတန်းမီ ယာဉ်စက်သုံးခဲအက်ဆစ်ဘက်ထရီအိုး ( Lead Acid Battery ) ထုတ်လုပ်သည့်စက်ပစ္စည်းကရိယာများကို ရွှေ့ဆိုင်းငွေ ပေးချေခြင်းစနစ် ( Deferred Payment System ) အရ အကြွေးဖြင့် တစ်နှစ်လျှင် (၁၀) ရာခိုင်နှုန်း အတိုးဖြင့် တင်သွင်းမည်ဖြစ်ပြီး၊ ရရှိလာသော နိုင်ငံခြားငွေများဖြင့် (၃)နှစ် အတွင်း ပြန်လည်ပေးဆပ် မည်ဖြစ်ပါသည်။

၃။ ကျွန်တော်တို့ကုမ္ပဏီလီမိတက်အနေဖြင့် ရင်းနှီးငွေကျပ် (၁၅) သန်းကို မြန်မာ နိုင်ငံကျပ်ငွေ၊ စက်ရုံအဆောက်အဦး၊ မြေကွက်တန်ဘိုးများဖြင့် ထည့်ဝင်ပြီး ရင်းနှီးမြှုပ်နှံကြမည်ဖြစ်ပါသည်။ လုပ်ငန်းလုပ်ကိုင်၍ ရရှိလာသောအမြတ်ငွေများကိုလည်း၊ မြန်မာနိုင်ငံတော်အတွင်း အခြားခွင့်ပြုထားသည့် စီးပွားရေးလုပ်ငန်းများတွင် ပြန်လည်ရင်းနှီးမြှုပ်နှံသွားရန် ရည်ရွယ်ပါသည်။

၄။ သို့ဖြစ်ပါ၍ နိုင်ငံတော်အတွက်ရသင့်ရထိုက်သော အခွန်ဘဏ္ဍာငွေများ ရရှိစေရန်အတွက် လည်းကောင်း၊ မြန်မာနိုင်ငံသားများအတွက် အလုပ်အကိုင်အခွင့်အလမ်းများ ရရှိစေရန်အတွက် လည်းကောင်း၊ စက်မှုနည်းပညာရပ်များတိုးပွားရရှိစေရန်အတွက်လည်းကောင်း၊ နိုင်ငံသားများစီးပွားရေးဖွံ့ဖြိုးတိုးတက်စေခြင်း အလို့ငှာလည်းကောင်း၊ ကျွန်တော်တို့ PROVEN TECHNOLOGY INDUSTRY CO.,LTD ၏ မြန်မာနိုင်ငံသား များရင်းနှီးမြှုပ်နှံမှုခွင့်ပြုမိန့် လျှောက်ထားခြင်းကို လက်ခံစဉ်းစားပေးပါရန်နှင့် ပြည်ထောင်စုမြန်မာနိုင်ငံတော်၊ မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှု ဥပဒေပုဒ်မ(၁၂)နှင့်(၁၃) တို့အရ အခွန်ဆိုင်ရာကင်းလွတ်ခွင့် နှင့်သက်သာခွင့်များကို လည်းပေးအပ်ပါရန် ရိုသေလေးစားစွာဖြင့် လျှောက်ထားအပ်ပါသည်။

၅။ ထို့အပြင်ပြည်တွင်းတွင် လုပ်ငန်းမှထွက်ရှိလာသော ဘက်ထရီအိုးများကို နိုင်ငံခြားငွေဖြင့် လည်းကောင်း၊ ကျပ်ငွေဖြင့်လည်းကောင်း ရောင်းချရရှိရာတွင် ပထမ(၃)နှစ်အတွက် ကုန်သွယ်လုပ်ငန်းခွန် သက်သာခွင့်ပြုရန်အတွက် ဘဏ္ဍာရေးနှင့်အခွန်ဝန်ကြီးဌာနသို့ လျှောက်ထားခွင့်ပြုပါရန် မေတ္တာရပ်ခံတင်ပြအပ်ပါသည်။

၆။ လျှောက်လွှာနှင့်အတူ အောက်ဖော်ပြပါအထောက်အထားစာရွက်စာတမ်းများကို ပူးတွဲတင်ပြအပ်ပါသည်။

(၁)ပြည်ထောင်စုမြန်မာနိုင်ငံတော်အတွင်း မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုပြုလုပ်ရန် ကမကထပြုသူ၏ ဆောင်ရွက်ရန် အဆိုပြုချက်၊

(၂)လုပ်ငန်းပိုင်းနှင့် ငွေရေးကြေးရေး အထောက်အထားများ၊

(၃)ကုမ္ပဏီ သင်းဖွဲ့မှတ်တမ်း နှင့် သင်းဖွဲ့စည်းမျဉ်းများ၊

(၄)ဘဏ္ဍာရေးအချက်အလက်များနှင့် ပတ်သက်၍ တွက်ချက်မှုဇယားများ၊

ရိုသေလေးစားစွာဖြင့်

လျှောက်ထားသူ



ဦးအုန်းလွင်

(ဒါရိုက်တာ)

ပုံစံ( မနသ - ၁ )

# မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဥပဒေအရ
# ရင်းနှီးမြှုပ်နှံလိုသူ၏အဆိုပြုချက်

( ဥပဒေပုဒ်မ ၂ ပုဒ်မခွဲ(ဂ)နှင့် ပုဒ်မ ၈ )

သို့

ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
ရန်ကုန်မြို့။

စာအမှတ်၊
ရက်စွဲ၊ ၁၂ ၊ ၆ ၊ ၉၆

ကျွန်တော်/ကျွန်မသည် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ပြည်ထောင်စုမြန်မာနိုင်ငံတော်အတွင်းရင်းနှီးမြှုပ်နှံမှုပြုလုပ်လိုပါသဖြင့်ခွင့်ပြုပါရန် အောက်ပါအချက်အလက်များကိုဖော်ပြ၍လျှောက်ထားအပ်ပါသည်။

၁။ ရင်းနှီးမြှုပ်နှံသူ၏-

| | |
|---|---|
| (က) အမည် | ဦးအုန်းလွင် |
| (ခ) အဘအမည် | ဦးမောင်တင့် |
| (ဂ) နိုင်ငံသား/အမျိုးသားမှတ်ပုံတင်အမှတ် | MMN - ၅၃၀၄၉၁ |
| (ဃ) နေရပ်လိပ်စာ | အမှတ် (၈၀၉)၊ ကုန်သည်လမ်း၊ ပန်းဘဲတန်းမြို့နယ်၊ ရန်ကုန်မြို့။ |
| (င) လူမျိုး/ဘာသာ | ဗမာ/ဗုဒ္ဓဘာသာ |
| (စ) အဖွဲ့အစည်းအမည် | ပရိုဗင်(န်)တက်(ချ)နော်လော်ဂျီအင်ဒတ်စ်ထရီကုမ္ပဏီလီမိတက် PROVEN TECHNOLOGY INDUSTRY CO.,LTD |
| (ဆ) လုပ်ငန်းအမျိုးအစား | - |
| (ဇ) အဖွဲ့အစည်းတည်ရှိရာအရပ် | အမှတ် (၆၂/၆၄)၊ ရွှေတိဂုံဘုရားလမ်း၊ ပန်းဘဲတန်းမြို့နယ်၊ ရန်ကုန်မြို့။ |

၂။ ဖက်စပ်ပြုလုပ်၍ရင်းနှီးမြှုပ်နှံလိုပါက၊ ဖက်စပ်ပြုလုပ်မည့်သူများ၏-

| | |
|---|---|
| (က) အမည် | - |
| (ခ) အဘအမည် | - |
| (ဂ) နိုင်ငံသား/အမျိုးသားမှတ်ပုံတင်အမှတ် | - |
| (ဃ) နေရပ်လိပ်စာ | - |
| | - |
| (င) လူမျိုး/ဘာသာ | - |
| (စ) အဖွဲ့အစည်းအမည် | - |
| (ဆ) လုပ်ငန်းအမျိုးအစား | - |
| (ဇ) အဖွဲ့အစည်းတည်ရှိရာအရပ် | - |
| | - |

၃။ ရင်းနှီးမြှုပ်နှံမှုပြုလုပ်လိုသည့်လုပ်ငန်းအမျိုးအစား -

(က) ကုန်ထုတ်လုပ်မှုလုပ်ငန်း — ယာဉ်စက်သုံးခဲအက်ဆစ်ဘက်ထရီအိုးများထုတ်လုပ်ခြင်း

(ခ) ဝန်ဆောင်မှုလုပ်ငန်း —

၄။ လုပ်ကိုင်မည့်စီးပွားရေးပုံစံ -

(က) နိုင်ငံသားနှင့်နိုင်ငံသားတို့ကဖက်စပ်လုပ်ကိုင်ဆောင်ရွက်ခြင်း — လီမိတက်ကုမ္ပဏီ ( နောက်ဆက်တွဲဇယား - ၁ )

(ခ) အဖွဲ့အစည်းနှင့်နိုင်ငံသားတို့ကဖက်စပ်လုပ်ကိုင်ဆောင်ရွက်ခြင်း —

(ဂ) အဖွဲ့အစည်းနှင့်အခြားအဖွဲ့အစည်းတို့ကဖက်စပ်လုပ်ကိုင်ဆောင်ရွက်ခြင်း —

၅။ ဖွဲ့စည်းထားပြီးဖြစ်သည့် သို့မဟုတ် ဖွဲ့စည်းမည့်စီးပွားရေးအဖွဲ့အစည်းပုံသဏ္ဌာန်-

(က) တစ်ဦးတည်းပိုင် —

(ခ) အစုစပ်လုပ်ငန်း —

(ဂ) လီမိတက်ကုမ္ပဏီ — ပရိုဗင်(န်)တက်(ချ်)နော်လော်ဂျီအင်ဒတ်စ်ထရီကုမ္ပဏီလီမိတက်
PROVEN TECHNOLOGY INDUSTRY CO.,LTD
( နောက်ဆက်တွဲဇယား - ၁ )

(ဃ) သမဝါယမအသင်း —

၆။ အစုစပ်လုပ်ငန်းပုံသဏ္ဌာန်ဖွဲ့စည်းလိုပါက-

(က) အစုဝင်တို့ကထည့်ဝင်မည့်အစုငွေအမျိုးအစားနှင့်ပမာဏ —

(ခ) အကျိုးအမြတ်ခွဲဝေမည့်အမျိုးအစား —

(ဂ) အစုစပ်ဝင်များ၏တာဝန်နှင့်လုပ်ပိုင်ခွင့်များ —

၇။ လီမိတက်ကုမ္ပဏီပုံသဏ္ဌာန်ဖွဲ့စည်းလိုပါက-

(က) ခွင့်ပြုမတည်ငွေရင်း — ကျပ် ၂၀၀,၀၀၀,၀၀၀ (ကျပ်သန်းနှစ်ရာတိတိ)

(ခ) အစုရှယ်ယာအမျိုးအစား — တစ်စုလျှင်ကျပ်၁၀,၀၀၀(ကျပ်တစ်သောင်းတိတိ) တန် သာမန်အစုရှယ်ယာ ၂၀၀၀၀ ( နှစ်သောင်း )

(ဂ) အစုရှယ်ယာရှင်များကထည့်ဝင်မည့်အစုရှယ်ယာပမာဏ — ကျပ် ၁၅,၀၀၀,၀၀၀ (ကျပ်တစ်ဆယ့်ငါးသန်းတိတိ) တစ်စုလျှင်ကျပ် ၁၀,၀၀၀ တန် အစုရှယ်ယာ ၁၅၀၀ ( တစ်ထောင်ငါးရာ )

၈။ ရင်းနှီးမြှုပ်နှံမှုပြုလုပ်သည့်အဖွဲ့အစည်းနှင့်သက်ဆိုင်သောအချက်အလက်များ -

(က) မတည်ငွေရင်းပမာဏ

| | ( ကျပ် ) |
|---|---|
| (၁) ငွေပမာဏ | ၈,၀၀၀,၀၀၀ |
| (၂) မြေ | ၄,၀၀၀,၀၀၀ |
| (၃) အဆောက်အဦး( နောက်ဆက်တွဲဇယား ၂ ) | ၃,၀၀၀,၀၀၀ |
| (၄) ကုန်ကြမ်းပစ္စည်းများ | - |
| ကိုယ်ပိုင်ထည့်ဝင်ရင်းနှီးငွေပမာဏ | ၁၅,၀၀၀,၀၀၀ |
| (၅) စက်ပစ္စည်းကရိယာများ( နောက်ဆက်တွဲဇယား ၃ ) ( သွင်းကုန်ပထမစနစ်ဖြင့်တင်သွင်းမည့်ပမာဏ ) | ၅,၄၀၀,၀၀၀ |
| စုစုပေါင်းထည့်ဝင်ရင်းနှီးငွေ | ၂၀,၄၀၀ ၀၀၀ |

(ဃ) နိုင်ငံခြားမှတင်သွင်းရန်လိုအပ်သည့်

| | ကျပ် | အမေရိကန်ဒေါ်လာ |
|---|---|---|
| (၁) စက်ပစ္စည်းများ၊ စက်ကရိယာများ၏တန်ဖိုး ( နောက်ဆက်တွဲဇယား ၃ ) | ၅,၄၀၀,၀၀၀ | ၉၀၀,၀၀၀ |
| (၂) ကုန်ကြမ်းပစ္စည်းများနှင့်အခြားအလားတူပစ္စည်း၏တန်ဖိုး | - | - |
| (၃) ကျွမ်းကျင်မှုနည်းပညာရပ်များ၏တန်ဖိုးပမာဏ | - | - |
| | ၅,၄၀၀,၀၀၀ | ၉၀၀,၀၀၀ |

( စက်ပစ္စည်းများကို မလေးရှားနိုင်ငံ၊ SMART NETWORK SDN. BHD မှ (၃)နှစ်ရွှေ့ဆိုင်းငွေပေးချေခြင်းစနစ် ( Deferred Payment System )အရ တစ်နှစ်လျှင် ၁၀ ရာခိုင်နှုန်း အတိုးဖြင့်ဝယ်ယူမည်ဖြစ်ပါသည်။ )

(ဂ) တည်ဆောက်မှုကာလ — (၁၀)လ

(ဃ) ပမာဏစူးစမ်းလေ့လာမှုပြုလုပ်မည့်ကာလ — (၁)လ

(င) တည်ဆောက်မှုစတင်မည့်အချိန် — မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်မှခွင့်ပြုမိန့်ရရှိသည့်နေ့မှ စတင်ဆောင်ရွက်သွားမည်။

၉။ ဆောင်ရွက်မည့်စီးပွားရေးအဖွဲ့အစည်းနှင့် သက်ဆိုင်သောအချက်အလက်များ -

(က) လုပ်ငန်းအမျိုးအစား — ယာဉ်စက်သုံးခဲအက်ဆစ်ဘက်ထရီအိုးများထုတ်လုပ်ခြင်း

(ခ) ရင်းနှီးမြှုပ်နှံမှုပြုလုပ်မည့်ဒေသများ — မြေကွက်အမှတ်၉၄(က/ခ)၊ ရပ်ကွက်အမှတ်(၄၂)၊ စက်မှုဒေသ၊ ရွှေပြည်သာမြို့နယ်၊ ရန်ကုန်မြို့။

(ဂ) ဆောင်ရွက်ပုံနည်းစနစ် — ခေတ်မီထုတ်လုပ်မှုနည်းပညာ

